ယ္ခုအခါကျွန်ုပ်၏သားတပည့်ဖြစ်သူ ဘာသာရေး၊ ပညာရေးတွင် လုပ်ကိုင်လျှက်ရှိသော- မဒီနသုလ်အုလူးမ် အရဗီတက္ကသိုလ် အထက်တန်းပြဆရာ တပါးဖြစ်သည့် မောင်လာနာမွဖ်သီဟိဒ်မှ ဗာဗ် များ၏ خاصية ကိုပြန်ဆို ရေးသားပြုစုပြီးဖြစ်၍ ဝမ်းသာအားရကျေနပ်ပါသည်။ မောင်လာနာ့အား အထူး ကျေးဇူးတင်မိပါသည်။ အရဗီစာပေကို ထိရောက်စွာ တတ်မြောက်သင်ယူလိုသူများအဖို့ အထူးဆုလဒ်ကြီးပင်ဖြစ်သည်ဟု ဆိုချင်ပါသည်။

အရဗီကျောင်းများ၏ အခြေခံများတွင် صرف ပညာရပ်အဆင့် (၃/၄) တို့၌ ဤစာအုပ်အား ပြဋ္ဌာန်းသင်ကြားပေးခြင်းတို့ဖြင့် ကျောင်းသားများကို များစွာ အကျိုးရှိမည်ဖြစ်ပါသည်။ မောင်လာနာဆပ်မှလည်း နောက်နောင်တွင် ကျောင်းသုံးဘာသာရပ်ဆိုင်ရာ၊ ဘာသာရေးဆိုင်ရာစာအုပ်များ ထုတ်ပြန်နိုင်ပါစေဟု ဒိုအာပြု ပို့အပ်ပါသည်။

ရှိက်ခ်ွလ်ဟဒီးဆ် အလ်ဟာဂျ်မောင်လာနာ ဂျမာလွတ်ဒီးန်

ကျောင်းအုပ်ဆရာကြီး

အဇီဇီယာ အစ္စလာမ့်အရဗီတက္ကသိုလ်

# مُعِينُ الصَّرْف

## عَلٰى خَاصِيَّاتِ الْأَبْوَابْ

بَابْ များ၏ထူးခြားချက်များ


တည်းဖြတ်သူ - အလ်ဟာဂျ် မောင်လာနာ ရမသွာန် - ဦးဘိုတင်

စုစည်းတင်ပြသူ - မောင်လာနာ မွဖ်သီ ဏဟစ်ဒ် - မဒနီ - (တောင်ကြီး)


علم الصرف ۴







# معين الصّرف

# على

# خاصيّات الابواب

## باب များ၏ထူးခြားချက်များ

# علم الصّرف ٤


တည်းဖြတ်သူ – အလ်ဟာဂ်မောင်လာနာရမသွားန် – ဦးဘိုတင် – ကျောင်းအုပ်ဆရာကြီး (ငြိမ်း)

စုစည်းတင်ပြသူ – မွဖ်သီမိုဟမ္မဒ်ဓာဟိဒ် – မဒနီ – (တောင်ကြီး)




# خاصيات

# خاصيات

– တည်းဖြတ်သူ၏အမှာစာ –

အလ်ဟာဂျ် မောင်လာနာ ရမဇွာန် – ဦးဘိုတင် – (ကျောင်းအုပ်ဆရာကြီးငြိမ်း)

## نحمده و نصلى على رسوله الكريم ــ أمّا بعد

လေးစားအပ်ပါသော စာရှုသူအပေါင်းတို့ခင်ဗျား !

ယခုမိတ်ဆွေ၏ လက်ဝယ် ရောက်ရှိနေသော ကျမ်းစာငယ်မှာ မန္တလေးတိုင်းဒေသကြီး–ပျော်ဘွယ်မြို့နယ်–ယင်းတော်ရွာရှိ မဒီနသုလ်အုလူးမ် အရဗီတက္ကသိုလ်တွင် ဒေါင်ရာဟ်ဟဒီးဆ်တန်း၌ သာသနာ့ပညာများကို သင်ကြားပို့ချနေသော ကျွန်တော်၏တပည့်ရင်း မောင်လာနာမွဖ်သီမိုဟမ္မဒ်ဇာဟစ်ဒ်(ဆွာဟိဗ်) စီစဉ်ရေးသားထားသော خاصيات الأبواب ကျမ်းငယ်တစ်စောင်ဖြစ်ပါသည်။

မွဖ်သီဆပ်သည် ငယ်စဉ်ကျောင်းသားဘဝမှ စ၍ ယနေ့တိုင်သာသနာ့ပညာ ဆည်းပူးရာတွင် သူမတူအောင် နိုက်နိုက်ချွတ်ချွတ်တိတိကျကျ လေ့လာလေ့ရှိပြီးသာသနာ့ကျောင်းတော်ကြီးများတွင် သင်ကြားလျှက်ရှိသော فُنونات ဘာသာရပ်များကို အကျိုးရှိစေမည့်အထောက်အကူပြုစာပေများကို မြောက်များစွာထုတ်ဝေပြီး ဖြစ်ပါသည်။

ယခုမှာလည်းအရဗီစာပေ၏ဘာသာရပ်များတွင် صرف ဂိုဏ်းစဉ်ပညာရပ် မှ တစိတ်တဒေသဖြစ်သော خاصيات الأبواب နှင့်ပတ်သက်သည့်ကျမ်းငယ်ကို အရဗီကျောင်းကြီးများတွင်ပညာသင်ကြားလျှက်ရှိသောကျောင်းသား/သူ

များအတွက်အကျိုးရှိစေရန်အလို့ငှာထပ်မံ ထုတ်ဝေလိုက်ပါသည်။ الحمد لله

ဤကျမ်းငယ်အား လေ့လာကြည့်ရှု တည်းဖြတ်ပေးရန် ကျွန်တော့်အား တာဝန်ပေး၍ ကြည့်ရှုစစ်ဆေးကြည့်ရာ တိုတိုတုတ်တုတ်နှင့် အရေးကြီးသောအကြောင်းအရာများကို ဖော်ပြထားပြီး မှန်ကန်ကြောင်းထောက်ခံအပ်ပါသည်။

ဤကျမ်းငယ်တွင်ပါဝင်သော صرف ပညာ၏ مسئلة များကိုကျွမ်းကျင်နားလည်မှုမရှိဘဲ– အရဗီစာပေကိုနားလည်ရန် မဖြစ်နိုင်ပါ။

ထို့ကြောင့်မြန်မာပြည်အဝှမ်းရှိအရဗီစာပေကိုလေ့လာဆည်းပူးနေကြသော ကျောင်းသား/သူ များအနေနှင့်ဤကျမ်းငယ်ကို စိတ်ဝင်တစားလေ့လာကြရန်နှင့် ဤကျမ်းကိုပြုစုသူမွဖ်သီဆပ်အား ဆထက်တမ်းပိုးတိုး၍သာသနာ့စာစဥ်များကိုပြုစုရေးသားနိုင်ပါစေဟု ဆုမွန်ဒိုအာပြုရင်း ....

29/10/2018

အလ်ဟာဂျ်မောင်လာနာရမသွားန်-ဦးဘိုတင်

ကျောင်းအုပ်ဆရာကြီး(ငြိမ်း) - ယင်းတော်

- အမှာစာ -

ရှိက်ခ်ုလ်ဟဒီးဆ် အလ်ဟာဂျ် မောင်လာနာ ဂူလာမွတ်ဒီးန် ဆွာဟိဗ် (မဒနီ)

ကျောင်းအုပ်ဆရာကြီး အဂီဂီယာ အစ္စလာမ့်အရဗီတက္ကသိုလ်

# بسم الله الرحمن الرحيم

**الحمد لله وحده والصلاة والسلام على من لا نبى بعده وعلى آله أجمعين .**

အစ္စလာမ် ဘာသာဝင်များအဖို့အမိဝမ်းမှကျွတ်သည့်နေ့မှစ၍နောက်ဆုံးထွက်သက်ထိ ဆက်ဆက် ထိတွေ့ရမည့် ရှဟာဒါသ်ကလေမဟ်သည် အရဗီ(အရစ်) စာပေပင်ဖြစ်ပါသည်။

ရှေးတမန်တော်များထံ ထုတ်ပြန်ချမှတ်သည့် ကျမ်းစာများသည်အရဗီစာပေနှင့်သာ ဖြစ်ကြောင်းသာဝကကြီးအိဗ်နအဗ္ဗားစ်သွင်ကမိန့်ဆိုခဲ့သည်။ တမန်တော်မြတ်မိုဟမ္မဒ် ﷺ သည် အရစ်လူမျိုးဖြစ်သကဲ့သို့ ကုရ်အာန်ကျမ်းတော်မြတ်သည်လည်းအရစ်စာပေနှင့်သာဖြစ်ရှိသည်။နောင်အာခေရသ် တွင်ပြောဆိုရမည့် ဘာသာစကားသည်လည်းအရဗီစကားပင်ဖြစ်သည်။ထိုစာပေသည် لغة - صرف - نحو များအပြင် فصاحة - بلاغة စသည့်စသည့် ဘာသာရပ်များလည်းပါဝင်လျှက်ရှိခြင်းနှင့်အတူသိမ်မွေ့နက်နဲကြွယ်ဝသော၊ရှေးအကျဆုံးသောစာပေဖြစ်ခြင်းတို့ကြောင့်ဂန္ထဝင်စာပေဖြစ်ရုံသာမက ဂုဏ်တော်အနန္တ၊ ဝိဘက်တော်အနန္တနှင့်ပြည့်စုံတော်မူသောအလ္လာဟ်အရှင်မြတ်၏ရုံးတော်စာပေဖြစ်ခြင်းတို့ကြောင့် ကျွန်ုပ်တို့မွတ်စ်များအဖို့ ဤစာပေကို ချစ်ခင်

လေးစားတန်ဖိုးထားရပေမည်။

အရဗီစာပေကိုလေ့လာဆည်းပူးသင်ကြားလိုသူများသည် ဦးစွာပထမ အဓိကကျသည့် نحو — صرف — لغة စသည့်အခြေခံဘာသာရပ်များကို ကျွမ်းကျင်အောင်သင်ယူဆည်းပူးရပေမည်။၎င်းဘာသာရပ်များတွင် صـــــرف ဘာသာရပ်သည်လွန်စွာခက်ခဲနက်နဲကျယ်ပြန့်သော ဘာသာရပ်ဖြစ်သည်။ယင်းတို့တွင် (خـــاصيـــات الأبواب) بـــاب များ၏ထူးခြားမှုများသည်များစွာအရေးပါလှပေသည်။ بـــــاب ပြောင်းလဲမှုအပေါ်အဓိပ္ပါယ်များပြောင်းလဲပေသည်။ بـــــاب ၏ خــــاصيــــات ကိုနားမလည်ပါကအဓိပ္ပါယ်ပြန်ဆိုရာတွင် မှန်ကန်မည်မဟုတ်ပေ ကျွန်ုပ်တို့အာလင်မ်များမှ အချို့သည် بـــاب ၏ خــــاصيــــات များကိုလေ့လာဆည်းပူးမှုအားနည်းနေသည်ကိုတွေ့ရသည့်အတွက်ကြောင့်ကျွန်ုပ်သည်လွန်ခဲ့သည့်နှစ်များစွာကပင် بـــاب များ၏ خـــاصيـــات ကိုပြန်ဆိုရေးသားရန်စိတ်ဆန္ဒများမကြာခဏပေါ်ပေါက်ခဲ့သော်လည်း မရေးဖြစ်ခဲ့ပါ။

ယခုအခါကျွန်ုပ်၏သားတပည့်ဖြစ်သူ ဘာသာရေး၊ ပညာရေးတွင်လုပ်ကိုင်လျှက်ရှိသော- မဒီနသုလ်အုလူးမ်အရဗီတက္ကသိုလ်အထက်တန်းပြဆရာတပါးဖြစ်သည့် မောင်လာနာမွဖ်သီဇာဟိဒ်မှ بـــــاب များ၏ خـــــاصية ကိုပြန်ဆိုရေးသားပြုစုပြီးဖြစ်၍ဝမ်းသာအားရကျေနပ်ပါသည်။မောင်လာနာ့အားအထူးကျေးဇူးတင်မိပါသည်။အရဗီစာပေကိုထိရောက်စွာတတ်မြောက်သင်ယူလိုသူများအဖို့အထူးဆုလာဒ်ကြီးပင်ဖြစ်သည်ဟုဆိုခြင်ပါသည်။

# خاصيت



အရဗီကျောင်းများ၏အခြေခံများတွင် صرف ပညာရပ်အဆင့်(၃/၄) တို့၌ဤစာအုပ်အားပြဋ္ဌာန်းသင်ကြားပေးခြင်းတို့ဖြင့်ကျောင်းသားများကိုများစွာ အကျိုးရှိမည်ဖြစ်ပါသည်။မောင်လာနာဆပ်မှလည်းနောက်နောင်တွင်ကျောင်း သုံးဘာသာရပ်ဆိုင်ရာ/ဘာသာရေးဆိုင်ရာစာအုပ်များထုတ်ပြန်နိုင်ပါစေဟု ဒိုအာပြု ပို့အပ်ပါသည်။

ရှိုက်ခ်ခွလ်ဟာဒီးဆ် အလ်ဟာဂျ်မောင်လာနာ ဂျမာလွတ်ဒီးန်

ကျောင်းအုပ်ဆရာကြီး

အဇီဇီယာအစ္စလာမ့်အရဗီတက္ကသိုလ်

– အမှာစာ –

ရှိက်ခ်ခွလ်ဟဒီးဆ်အလ်ဟာဂျ်မောင်လာနာယူနုတ်စ် – ဦးစိုးသိန်း – ဆွာဟိဗ်(မဒနီ)

ပေါ်ဒါယသုလ်အုလူးမ်အစ္စလာမ့်အရဗီတက္ကသိုလ် – ရမည်းသင်းမြို့

## بسم الله الرحمن الرحيم

**الحمد لله الذى فضل بنى آدم بالعلم والعمل على جميع العالم . والصلاة و السلام على محمد سيد العرب والعجم وعلى آله وأصحابه ينابيع العلوم والحكم وبعد —**

အစ္စလာမ့် သာသနာတော်၏ ကျင့်ရန် ကျဉ်ရန် ပညာတ်တော်များကို ကုရ်အာန်ကျမ်းတော်မြတ်နှင့်တမန်တော်မြတ် ﷺ ၏ဟဒီးဆ်တော်များမှ ထုတ်နုတ်ထားခြင်းဖြစ်သည်။တတ်သိနားလည်း၊ လိုက်နာကျင့်သုံးခြင်းသည် သာသနာတော်၏ အဓိကအချက်ပင်ဖြစ်သည်။သာသနာ့ကျောင်းတော်များဖွင့်လှစ်သင်ကြားခြင်း၏အဓိကရည်ရွယ်ချက်မှာလည်းဤသည်ပင်ဖြစ်သည်။သာသနာတော်၏ ဥပဒေကျမ်းဖြစ်သည့် ကျမ်းတော်မြတ်ကုရ်အာန်၊ တမန်တော်မြတ် ﷺ ၏ဟဒီးဆ်ကျမ်းတော်များ၊ ဆွဟာဗဟ် رضـ များနှင့် သာဗေအီ رحـ သခင်ကြီးများ၏ ကျင့်သုံးမှုဖြတ်ထုံးကျမ်းဂန်များသည် မူရင်းအရဗီစာပေဘာသာရပ်ပင်ဖြစ်သည်။အဆိုပါအရဗီစာပေကျမ်းစာများကိုသဘောပေါက်နိုင်ရန် لغة ـ ادب ـ صرف ـ نحو စသည့်ဘာသာရပ်များကို တတ်သိရှိရန်လွန်စွာအရေးကြီးပေသည်။

مصدر ခေါ် မူရင်းစာလုံးများ၊ ၎င်းမှ أفعال ကြိယာပြစကားလုံးများ၊ တခုကိန်း၊ နှစ်ခုကိန်း၊ အများကိန်း၊ သူ/သူမ၊ အသင်/အသင်မ၊ ကျွန်တော်/ကျွန်မစသည့်

ကိန်းများ၊ ကွဲထွက်သုံးနှုန်းပုံများ၊ ကာလသုံးပါးပေါ်အခြေခံ၍ ကြိယာပြောင်းလွဲသုံးစွဲပုံ၊ اسم ခေါ် နာမ်စကားလုံးများဖြစ်သည့် ပြုလုပ်သူပြနာမ်၊ ပြုလုပ်ခံရသူပြနာမ်၊ ပြုလုပ်သည့် အချိန်နေရာပြနာမ် စသည်တို့ပြောင်းလွဲသုံးစွဲသည့်ပုံစံများကို صرف ပညာဖြင့်သာ သိရှိရပေမည်။باب ခေါ် မူရင်းအက္ခရာတူပြီးသုံးနှုန်းသည့်ပုံစံအနည်းငယ်ပြောင်းလွဲသွားခြင်းအပေါ်ထူးခြားစွာအဓိပ္ပါယ်ပြောင်းလွဲသွားပုံများကိုလည်း၎င်းပညာရပ်မှသိရှိနားလည်ရမည်ဖြစ်သည်။အစ္စလာမ့်သမိုင်းတွင် ခိုလာဖာအေ့ရာရှေဒီးန်လေးပါးအနက် ဒုတိယခလီဖ္ဖာ သမ္မတကြီးဟာဇရသ်အုမရ်၏ခေတ်သမယက ဂျနာဇဟ်တခုသို့ရောက်လာသောပုဂ္ဂိုလ်တဦးက သခင်ကြီးအား مَنِ الْمُتَوَفِّى (အသက်ကိုမည်သူနတ်သနည်း)ဟုအဓိပ္ပါယ်ရသော စကားလုံးဖြင့်မေးမြန်းခဲ့ရာသခင်ကြီးက الله အရှင်မြတ်ဖြစ်တယ်လို့အဖြေပေးခဲ့လေသည်။နောက်မှ ၎င်းသူဘာကိုရည်ရွယ်ပြီးမေးမြန်းသည်ဆိုတာကို စူးစမ်းလေ့လာသောအခါ مَنِ الْمُتَوَفَّى (သေဆုံးသူမည်သူနည်း)ဟုမေးမြန်းခြင်းဖြစ်ကြောင်းသိရှိရသည်။စကားလုံးဖွဲ့စည်းပုံတူသောလည်းဇဘာရ်နှင့်ဇေရ်အပြောင်းအလဲဖြစ်သွားခြင်းအပေါ် အသက်နတ်သိမ်းသူနှင့်အသက်နတ်သိမ်းခြင်းခံရသူဟူ၍ အဓိပ္ပါယ်ခြားနားသွားခြင်းဖြစ်သည်။၎င်းသည်စကားပြောဆိုမှုအခြေအနေမှားယွင်းမှုကြောင့်ဖြစ်သည်။

၎င်းအတွက်صرف ပညာရပ်သည်အစ္စလာမ်သာသနာ့ဥပဒေကျမ်းတော်များတွင်မှု အဘယ်မျှအရေးကြီးမည်ကိုစဉ်းစားနိုင်ရန်ဖြစ်သည်။၎င်းမျှအရေးကြီးသော صرف ပညာရပ်ဆိုင်ရာကျမ်းကိုယင်းတော် မဒီနသုလ်အုလူးမ်အရဗီတက္ကသိုလ်၏

# خاصيات

အထက်တန်းပြဆရာတဦးဖြစ်သူ ကျွန်တော်၏ သာသနာ့ညီနောင် မောင်လာနာ မွဖ်သီ မိုဟမ္မဒ် ဇာဟိဒ် ဆွာဟိဗ် زيـــدمـــجـــدهـــم (မဒနီ+မဟ်မူဒီ) က معين الصرف على خاصيات الأبواب အမည်ဖြင့် အထက်အကြီးအကဲ သာသနာ့ ပညာရှင်ကြီးများရေးသားပြုစုခဲ့သော ခိုင်မာသည့်ကျမ်းစာများမှ ရှာဖွေစုဆောင်း၍ ရေးသားပြုစုထားပါသည်။အစ္စလာမ်သာသနာတော်၏ အဓိက ကျမ်းစာများကို နည်း စနစ်မှန်ကန်စွာဖြင့် နားလည်လိုသူများနှင့်အရဗီစာပေတတ်မြောက်လိုသူများအတွက် လွန်စွာအကျိုးပြုမည့် صـــرف ဘာသာရပ်ဆိုင်ရာ ကျမ်းငယ်တစောင်ဖြစ်ပါသည်။

ရေးသားပြုစုသူ ကူညီပံ့ပိုးသူများနှင့်ဤကျမ်းစာဖြင့် အကျိုးခံစားမည့်သူ အားလုံးကို အလ္လာဟ်အရှင်မြတ်သခင်သည် သာသနာ့အေလင်မ်တိုးပွားမှုနှင့် နစ်ဘဝ အောင်မြင်မှုရမည့်ကျင့်သုံးမှုများပြုလုပ်နိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပါစေ။ **آمين**

ရေးသားပြုစုသူ မွဖ်သီအားယခုကဲ့သို့ထူးကဲသောသာသနာ့အကျိုးပြုစာအုပ်/ စာပေကျမ်းစာများကိုဆက်လက်၍ရေးသားပြုစုနိုင်စွမ်းချီးမြှင့်ပေးသနားတော်မူပါစေ။

اللهم زد فزد — آمين يارب العالمين برحمتك ياارحم الراحمين

والحمدلله رب العالمين .

ရှိုက်ခ်ခွလ်ဟဒီးဆ်အလ်ဟာဂျ်မောင်လာနာယူနွတ်စ်-ဦးစိုးသိန်း

ဟေဒါယသုလ်အုလူးမ်အစ္စလာမ့်အရဗီတက္ကသိုလ်-ရမည်းသင်း

## ပန်ကြားလွှာ

إنّ الحمدلله والصلاة والسلام على خاتم الأنبياء وعلى أصحابه الأتقياء أما بعد۔

လူသားများကိုသာသနာ့အသိဉာဏ်ပေးသနားတော်မူသော အလ္လာဟ်အရှင်မြတ်ကိုဦးစွာ ကျေးဇူးတင်ပါသည်။သာသနာ့ပညာရှာဖွေသော ကျောင်းသားများနှင့် အရဗီ ပညာရပ်ကိုလေ့လာသောသူတိုင်းအတွက် صرف ပညာရပ်ဖြစ်သော باب များပြောင်းလွဲခြင်းကြောင့်အဓိပ္ပါယ်များ  များစွာပြောင်းလွဲသွားခြင်းကိုသိရှိရန်လွန်စွာအရေးကြီးပေသည်။ တဖန် بـــاب များ၏ထူးခြားချက်များကို အမိစကားဖြင့် ရေးသားထားသောစာအုပ်ကိုမှ လေ့လာလိုသူများအတွက်ဤစာအုပ်သည်အဖော်မွန်ကောင်းတအုပ်ဖြစ်လိမ့်မည်ဟု မျှော်လင့်ပါသည်။

ဤစာအုပ်ကိုလေ့လာသူ(သို့)သင်ယူသူ(သို့)သင်ပေးသူများသည်စာအုပ်ပါအချို့နေရာများ၌ နားလည်းမှုခက်ခဲပါကဖော်ပြထားသည့် ဥပမာများကိုအဓိကထားကြည့်၍လေ့လာ၊ သင်ပေး ပါက ပိုမိုအဆင်ပြေလိမ့်မည်ဟုအကြံပြုအပ်ပါသည်။

ဤစာအုပ်ဖြင့်လူတချို့ပင်အကျိုးခံစားမှုရရှိပါသည်ဆိုလျှင်ကျွန်တော်အတွက် များစွာ အကျိုးစဝါးဗ်ရရှိလိမ့်မည်ဟု(အလ္လာဟ်ရှင့်ရဟ်မသ်ကို)မျှော်လင့်ပါသည်။ကျွန်ုပ်နှင့် ကျွန်ုပ်၏ဆရာသွင်များ၊ စာပြုပြင်ပေးကြသောဆရာသွင်များနှင့် အတူရေးသားစာစီရာတွင် အသေးစိတ် ကိုယ်စွမ်း၊ ဉာဏ်စွမ်းဖြင့်ကူညီပေးခဲ့ကြသော မိတ်ဆွေသူငယ်ချင်းများအားလုံးကိုပါ အလ္လာဟ်အရှင် علم ၏ نور ကိုချီးမြှင့်၍နစ်ဘဝလုံးတွင်အောင်မြင်မှုပေးသနားတော်မူပါစေ။ (آمين)

မိုဟမ္မဒ်ဇာဟိဒ်-မဒနီ

بسم الله الرحمن الرحيم

# الباب الاوّل

## اسم ၏အခန်း

☆ اسم -၃- မျိုးရှိလေသည်။ ☆

၁- جامد　၂- مصدر　၃- مشتق

اسم جامد - ဆိုသည်မှာ၎င်းသည် အခြားမည်သည့်စာလုံးမှခွဲထွက်လာ စာလုံးမဟုတ်ပါ။၎င်းမှလည်း အခြားမည်သည့်စာလုံးမှျ မခွဲထွက်ပါ။

☆ اسم جامد သုံးမျိုးရှိသည် ☆

၁- ثلاثی　၂- رباعی　၃- خماسی

အထက်ပါ-၃-မျိုးမှ တမျိုးစီ၌ مجرد နှင့် مزیدفیه ဆိုပြီးနှစ်မျိုးစီလာရှိလေသည်။စုစုပေါင်း ခြောက်မျိုးဖြစ်လေသည်။

၁- ثلاثی مجرد　၂- رباعی مجرد　၃- خماسی مجرد

၄- ثلاثی مزید فیه　၅- رباعی مزید فیه　၆- خماسی مزید فیه

### ثلاثی

၁။ ။ ثلاثی مجرد ဆိုသည်မှာ حرف زائد အပိုအက္ခရာမရှိဘဲ حرف اصلی မူရင်းအက္ခရာသုံးလုံး ရှိသော اسم ကိုခေါ်သည်။

၄င်းသည် ‌وزن -၁၀- ခုရှိသည်---

(၁) فَلْسٌ-ပိုက်ဆံ (၂) فَرَسٌ-မြင်း (၃) كَتِفٌ-လက်ပြင် (၄) عَضُدٌ-လက်မောင်း

(၅) حِبْرٌ-မှင် (၆) عِنَبٌ-စပျစ်သီး (၇) اِبِلٌ-ကုလားအုပ်

(၈) قُفْلٌ-သော့ခလောက် (၉) صُرَدٌ-ငှက်ငယ် (၁၀) عُنُقٌ-လည်ဂုတ်

၂။ ။ثلاثی مزیدفیه-ဆိုသည်မှာ حرف أصلی သုံးလုံးထက်သာပိုသော

اسم ကိုခေါ်လေသည်။၄င်း၏ وزن များသည်များစွာရှိလေသည်။

ဥပမာ-بِطِّيْخٌ-ဖရဲသီး၊ جَاسُوْسٌ-ရဲသား/စုံထောက်

## رُباعی

၁။ ။رباعی مجرد ဆိုသည်မှာ حرف زائد မပါရှိဘဲ حرف أصلی လေးလုံးရှိသော اسم ကိုခေါ်လေသည်။၄င်းတွင် كلمة لام နှစ်လုံးထပ်၍လာလေသည်။ဥပမာ-فَعْلَلَ ၄င်းတွင် وزن -၅- ခုရှိလေသည်။

(၁) جَعْفَرٌ-ဂျအ်ဖရ် (၂) دِرْهَمٌ-ဒိရ်ဟမ်ငွေ (၃) زِبْرِجٌ-အလှအပ

(၄) بُرْثُنٌ-အသားစားသတ္တဝါများ၏ခြေသည်းလက်သည်း။

(၅) قِمَطْرٌ-သေတ္တာ

၂။ ။رباعی مزید فیه-ဆိုသည်မှာ မူရင်းအက္ခရာလေးလုံးရှိပြီးအပိုအက္ခရာပါသော اسم ကိုခေါ်သည်။၄င်း၏ وزن များမှာ အလွန်အလွန်နည်းပါးလေသည်။ ဥပမာ-مَفْعَلُوْلٌ-مَنْجَنُوْقٌ - فَعَلَلُوْتٌ-عَنْكَبُوْتٌ

## خماسى

၁။ ။حرف أصلى خماسى مجرد-ဆိုသည်မှာ حرف زائد မပါရှိဘဲ ငါးလုံးပါသော اسم ကိုခေါ်သည်။ ၎င်းတွင် وزن -၄- ခုရှိလေသည်။

(၁) سَفَرْجَلٌ (၂) قُذَعْمِلٌ (၃) جَحْمَرِشٌ (၄) قِرْطَعْبٌ

၂။ ။خماسى مزيد فيه-ဆိုသည်မှာ حرف أصلى ငါးလုံးရှိပြီး حرف زائد ပါသော اسم ကိုခေါ်လေသည်။၎င်းတွင် وزن ငါးခုရှိလေသည်။

(၁) عَضْرَفُوطٌ (၂) قَبَعْثَرَى (၃) قِرْطَبُوسٌ

(၄) خَنْدَرِيسٌ (၅) خُزَعْبِيلٌ

မှတ်ချက်။ ။(က) خماسى ဖြစ်သော فعل တခုတွင် حرف زائد နှင့် ضمير بارز ဆက်တွဲပါက နတ်လျှာ၌လေးလံမှုကိုဖြစ်စေသည့်အတွက် فعل များသည် باب خماسى မှ فعل များ မလာပါ။

မှတ်ချက်။ ။(ခ)اسم တိုင်းတွင် حرف زائد(အပိုအက္ခရာ)များသည် လေးလုံးထက်မသာပိုပေ။

မှတ်ချက်။ ။(ဂ) اسم တိုင်းတွင် حرف (အက္ခရာ)များသည်-၇-လုံးထက်မသာပိုရပေ။ဤအတွက် ثلاثى مزيدفيه တွင် မူရင်းအက္ခရာအပြင်အပိုအက္ခရာလေးလုံးထိသာ ရှိနိုင်ပေသည်။

ဥပမာ- အပိုအက္ခရာတလုံးရှိသော- ဥပမာ- حِمَارٌ

အပိုအက္ခရာနှစ်လုံးရှိသော- ဥပမာ- مِقْوَالٌ

အပိုအက္ခရာသုံးလုံးရှိသော- ဥပမာ- مُسْتَنْصِرٌ

အပိုအက္ခရာလေးလုံးရှိသော-ဥပမာ- اِسْتِنْصَارٌ

رباعی مزیدفیه တွင် မူရင်းအက္ခရာအပြင်အက္ခရာ သုံးလုံးထိသာ ပိုနိုင်သည်။

ဥပမာ- အပိုအက္ခရာတလုံးရှိသော-ဥပမာ- قَنْفَجَرٌ

အပိုအက္ခရာနှစ်လုံးရှိသော-ဥပမာ- مُتَدَحْرِجٌ

အပိုအက္ခရာသုံးလုံးရှိသော-ဥပမာ- عَبُوْثَرَان

خماسی مزیدفیه တွင်မူရင်းအက္ခရာအပြင်အက္ခရာနှစ်လုံးထိ သာပိုနိုင်သည်။

ဥပမာ- အပိုအက္ခရာတလုံးရှိသော-ဥပမာ- عَضْرَفُوْطٌ

အပိုအက္ခရာနှစ်လုံးရှိသော-ဥပမာ- اِصْطَفْلِيْنَ

## اسم مصدر

اسم مصدر-ဆိုသည်မှာ ၎င်းမှ اسم နှင့် فعل များခွဲထွက်လာသည့် اسمကို مصدر ဟုခေါ်သည်။ ဥပမာ- اَلْغَسْلُ - ဆေးကြောခြင်း။

ثلاثی مجرد - မှလာသော مصدر များ၏ وزن များသည်-၅၀-နီးပါးခန့်ရှိ လေသည်။၎င်းတို့မှာအောက်ပါအတိုင်းဖြစ်သည်။

## مصدر اسم ၏ وزن များ

| باب | معانی | مثال | اوزان |
|---|---|---|---|
| نصر ينصر | သတ်ဖြတ်ခြင်း | قَتْلٌ | فَعْلٌ |
| نصر | အမိန့်ဖီဆန်ခြင်း | فِسْقٌ | فِعْلٌ |
| نصر | ကျေးဇူးတင်ခြင်း | شُكْرٌ | فُعْلٌ |
| سمع | သနားကြင်နာခြင်း | رَحْمَةٌ | فَعْلَةٌ |
| سمع | မြေ လူးပေခြင်း | كُدْرَةٌ | فُعْلَةٌ |
| نصر | ပျောက်ဆုံးသောအရာကိုရှာဖွေခြင်း | نِشْدَةٌ | فِعْلَةٌ |
| نصر | ရှာဖွေခြင်း | طَلَبٌ | فَعَلٌ |
| ضرب | ကြိုးမိန့်ပေးခံရခြင်း | خَنِقٌ | فَعِلٌ |
| ضرب | လွှမ်းမိုးခြင်း | غَلَبَةٌ | فَعَلَةٌ |
| ضرب | ခိုးယူခြင်း | سَرِقَةٌ | فَعِلَةٌ |
| كرم | သေးငယ်ခြင်း | صِغَرٌ | فِعَلٌ |
| ضرب | လမ်းပြခြင်း | هُدًى | فُعَلٌ |
| فتح | သွားခြင်း | ذَهَابٌ | فَعَالٌ |
| نصر | ရပ်ခြင်း | قِيَامٌ | فِعَالٌ |
| فتح | မေးမြန်း/တောင်းခံခြင်း | سُوَالٌ | فُعَالٌ |
| ضرب | အကြွေးမဆပ်ဘဲနေခြင်း | لَيَّانٌ | فَعْلَانٌ |

# خاصيات

6

| | | | |
|---|---|---|---|
| ضرب | လက်မဲ့ဖြစ်ခြင်း | حِرْمَانٌ | فِعْلَانٌ |
| نصر | ဖိုမမိတ်လိုက်ခြင်း | نَزَوَانٌ | فَعَلَانٌ |
| ضرب | နေ့လည်ခင်းအိပ်ခြင်း | قَيْلُوْلَةٌ | فَعْلُوْلَةٌ |
| ضرب | လိမ်ပြောခြင်း | مَكْذُوْبَةٌ | مَفْعُوْلَةٌ |
| سمع | လက်ခံခြင်း | قَبُوْلٌ | فَعُوْلٌ |
| نصر | မောက်မာခြင်း | جَبُّوْرَةٌ | فَعُّوْلَةٌ |
| سمع | လိုလားခြင်း | رَغْبَاءُ | فَعْلَاءُ |
| سمع | အလွန်လိုလားခြင်း | رَغَبُوْةٌ | فَعَلُوْةٌ |
| فتح | အလွန်ဖြတ်တောက်ခြင်း | تِقِطَّاعٌ | تِفِعَّالٌ |
| ضرب | အလွန်လွှမ်းမိုးမှုရှိခြင်း | غُلُبَّى | فُعُلَّى |
| سمع | ရှောင်ကြဉ်ခြင်း | زَهَادَةٌ | فَعَالَةٌ |
| ضرب | သိရှိအောင်လုပ်ခြင်း | دِرَايَةٌ | فِعَالَةٌ |
| ضرب | ရှာဖွေခြင်း | بَغَايَةٌ | فَعَالَةٌ |
| ضرب | လျှပ်စီးလတ်ခြင်း | وَبِيْصٌ | فَعِيْلٌ |
| فتح | အဆက်ဖြတ်ခြင်း | قَطِيْعَةٌ | فَعِيْلَةٌ |
| نصر | ဝင်ရောက်ခြင်း | دُخُوْلٌ | فُعُوْلٌ |
| سمع | အဖြူနှင့်အနီဘက်သို့ သန်းသောအဝါရောင် | صُهُوْبَةٌ | فُعُوْلَةٌ |

# خاصيات

| مَفْعَلٌ | مَدْخَلٌ | ဝင်ရောက်ခြင်း | نصر |
|---|---|---|---|
| مَفْعِلٌ | مَيْسِرٌ | လောင်းကစားလုပ်ခြင်း | ضرب |
| مَفْعَلَةٌ | مَسْعَاةٌ(أصل- مَسْعَيَةٌ) | ကြိုးစားခြင်း | فتح |
| مَفْعِلَةٌ | مَحْمِدَةٌ | ချီးမွမ်းခြင်း | سمع |
| فَعْلٰى | دَعْوٰى | ကြွေးကြော်ခြင်း | نصر |
| فُعْلٰى | بُشْرٰى | သတင်းကောင်းပေးခြင်း | نصر |
| فِعْلٰى | ذِكْرٰى | သတိရတသခြင်း | نصر |
| تَفْعَالٌ | تَجْوَالٌ | အလွန်လှည့်ပတ်ခြင်း | نصر |
| فُعْلَانٌ | غُفْرَانٌ | ခွင့်လွှတ်ခြင်း | ضرب |
| فَعَالِيَةٌ | كَرَاهِيَةٌ | မနှစ်သက်ခြင်း | سمع |
| مَفْعُولٌ | مَكْذُوبٌ | လိမ်ပြောခြင်း | ضرب |
| فَاعِلَةٌ | كَاذِبَةٌ | လိမ်ပြောခြင်း | ضرب |
| مَفْعُلَةٌ | مَمْلُكَةٌ | ပိုင်ဆိုင်ခြင်း | ضرب |
| فَعَلُوَّةٌ | جَبَرُوَّةٌ | မောက်မာခြင်း | نصر |
| فَيْعُولَةٌ | كَيْنُونَةٌ | ဖြစ်ခြင်း | نصر |
| فَعَلُوتٰى | رَغَبُوتٰى | အလွန်လိုလားခြင်း | سمع |
| فِعِّيلٰى | دِلِّيلٰى | အလွန်ညွှန်ပြခြင်း | نصر |

##  فائدة အကျိုးကျေးဇူး

فائدة (၁) အကြောင်း مصدر တခုသည်လုပ်ရပ်၊လုပ်ငန်း စသည့်အဓိပ္ပါယ်များပေး ပါက အများပိုင်းငှင်း مصدر သည် فَعَالَةٌ (သို့) فِعَالَةٌ ၏ زون အပေါ် တွင်လာလေသည်။ဥပမာ- دَبَاغَةٌ - كِتَابَةٌ

فائدة (၂) ثلاثى مجرد မှလာသော مصدر ميمى သည် مَفْعَلٌ နှင့် مَفْعِلٌ ၏ وزن အပေါ်တွင်လာလေသည်။ ဥပမာ- مَضْرِبٌ - مَقْدَمٌ နောက်ဆုံးတွင် ءتا လိုက်ပြီး مَفْعَلَةٌ နှင့် مَفْعِلَةٌ ၏ وزن နှင့်လည်းလာ ရှိလေသည်။ ဥပမာ- مَحْمِدَةٌ - مَسْئَلَةٌ

فائدة -၃-(က) فَعْلَةٌ ၏ وزن အပေါ်တွင်လာသော مصدر သည်အကြိမ်အရေ ၏အဓိပ္ပါယ်ပေးလေသည်။ဥပမာ ضَرَبْتُ ضَرْبَةً (ကျွန်ုပ်တချက်ရိုက်ခဲ့သည်။)

(ခ) فِعْلَةٌ ၏ وزن အပေါ်တွင်လာသော مصدر သည် အမျိုးအစား၏ အဓိပ္ပါယ်ပေးလေသည်။ ဥပမာ- جَلَسْتُ جِلْسَةَ الْقَارِى (ကျွန်ုပ်ကာရီဆပ်ထိုင်သလိုမျိုးထိုင်ခဲ့သည်)

فائدة -၄- ثلاثى مجرد ၏အပြင်ကျန် باب များ၏ مصدر အားလုံးသည် قياسى များဖြစ်သည်။ ဥပမာ- إستفعالٌ - إستنصار

إفتعال - إجتنابٌ

مجرد ثلاثي ၏ مصدر များသည် سماعى များဖြစ်သည်။

ဥပမာ- نصر - ينصر - نصرًا / قعد - يقعد - قُعودًا

فائدة -၅- ثلاثى مزيد فيه နှင့် رباعى مزيدفيه မှလာသော وزن များမှာ

သီးသန့်သတ်မှတ်ချက်များရှိလေသည်။ပမာဆိုသော်

၁- اِفْتِعَالٌ　　၂- اِسْتِفْعَالٌ

၃- فَعْلَلَةٌ　　၄- تَفَعْلُلٌ

باب تَفْعِيل ၏ مصدر များသည်တခါတရံ تَفْعِلَةٌ ၏ وزن အတိုင်းလာလေသည်။ ဥပမာ- تَجْرِبَةٌ

(က)တခါတရံ فِعَّالٌ - فِعَالٌ ၏ وزن များပေါ်တွင်လဲလာလေသည်။

ဥပမာ- كَذَّبَ . يُكَذِّبُ . تَكْذِيبًا . كِذَابًا . كِذَّابًا

(ခ)တခါတရံ فَعَالٌ ၏ وزن အတိုင်းလာလေသည်။

ဥပမာ- سَلَّمَ . يُسَلِّمُ . تَسْلِيمًا . سَلَامًا

(ဂ)တခါတရံ تَفْعَالٌ ၏ وزن အတိုင်းလာလေသည်။

ဥပမာ- كَرَّرَ . يُكَرِّرُ . تَكْرِيرًا . تَكْرَارًا

(ဃ)တခါတရံ تِفْعَالٌ ၏ وزن အတိုင်းလာလေသည်။

ဥပမာ- بَيَّنَ . يُبَيِّنُ . تَبْيِينًا . تِبْيَانًا

باب فَعْلَلَة မသဒရ များသည်တခါတရံ فِعْلَالٌ ၏ ဝဇန် အတိုင်းလာလေသည်။ဥပမာ- زَلْزَلَ . يُزَلْزِلُ. زَلْزَلَةً . زِلْزَالًا

## ۞ إسم مشتقّ ۞

اسم مشتق-ဆိုသည်မှာ مصدر မှကွဲထွက်လာပြီး مصدر ၏အဓိပ္ပါယ်နှင့်မူရင်း (مادة) အက္ခရာ မပြောင်းလဲဘဲပုံစံအသစ် ဖြစ်ရှိသွားသော اسم ကိုခေါ်သည်။ ဥပမာ-ရွှေခွက်-ဟုပြောပါက ရွှေသည်ခွက်အဖြစ်ပြောင်းလဲသွားသော်လည်း ရွှေအဖြစ်တော့ကျန်ရှိလေသည်။

اسم مشتق -၆-မျိုးရှိသည်။၎င်းတို့မှာ---

၁-اسم فاعل ၂-اسم مفعول ၃-اسم تفضيل

၄-اسم اله ၅-اسم ظرف ၆-صفت مشبهة

## ۞ إسم فاعل ۞

اسم فاعل-ဆိုသည်မှာ လုပ်ရပ်လုပ်ဆောင်သောသူ၏အပေါ်ညွှန်ပြသော اسم ကိုခေါ်သည်။ ثلاثى مجرد သည့် اسم فاعل ၌

مذكر အတွက်-- فَاعِلٌ . فَاعِلَان . فَاعِلُوْنَ ၏ဝဇန် အပေါ်လာသည်။

مؤنث အတွက်-- فَاعِلَةٌ . فَاعِلَتَانِ . فَاعِلَات ၏ ဝဇန်အပေါ်လာသည်။

## ☆ اسم مبالغة ☆

اسم مبالغة၊အလွန့်အလွန်များပြားခြင်းကိုညွှန်ပြသော ဝ ز ن များ

| فَعِلٌ | حَذِرٌ | အလွန်ရှောင်ကျဉ်သောသူ |
|---|---|---|
| فَعِيلٌ | عَلِيمٌ | အလွန်သိသောသူ |
| فَعُولٌ | ضَرُوبٌ | အလွန်ရိုက်သောသူ |
| فَعَّالٌ | اَكَّالٌ | အလွန်စားသောသူ |
| فُعَّالٌ | قُطَّاعٌ | အလွန်ဖြတ်တောက်သောသူ |
| مِفْعَلٌ | مِجْزَمٌ | အလွန်ဖြတ်တောက်သောသူ |
| مِفْعَالٌ | مِجْزَامٌ | အလွန်ဖြတ်တောက်သောသူ |
| مِفْعِيلٌ | مِنْطِيقٌ | အလွန်ပြောသောသူ |
| فِعِّيلٌ | شِرِّيرٌ | အလွန်ဆိုးသွမ်းရုပ်မာသူ |
| فُعَلَةٌ | ضُحَكَةٌ | အလွန်ရယ်မောသူ |
| فُعَّلٌ | قُلَّبٌ | အလွန်ပြောင်းလဲသူ |

اسم مبالغة တွင် مؤنث - مذكر ခြားနားချက်မရှိပေ။တခါတရံသာပို၍များ ပြားခြင်းကိုညွှန်ပြရန်အတွက်နောက်ဆုံးတွင် ة تا အပိုနှင့်လာလေ သည်။ ဥပမာ- عَلَّامَةٌ . فَرُوقَةٌ . مِجْزَامَةٌ

# اسم مفعول

اسم مفعول ။ ။ဆိုသည်မှာ လုပ်ရပ်ကျရောက်ခြင်းခံရသော အရာအပေါ်ညွှန်ပြ

သောအသမ ကိုခေါ်သည်။ ഠ ജ

سوهظ ॥ ೮ ၏ ၏ ॥

ಪ್ರ သကြရ ।

مَفْعُوْلٌ . مَفْعُوْلَانِ . مَفْعُوْلُوْنَ အတွက် مذكر

مَفْعُوْلَةٌ . مَفْعُوْلَتَانِ . مَفْعُوْلَاتٌ အတွက် مؤنث ၏

وزن များအပေါ် ၌လာလေသည်။

တခါတရံအောက်ပါ وزن များအတိုင်းလာရှိပါကလည်း مفعول ၏အဓိပ္ပါယ်ပေးလေ

သည်။၎င်းတို့မှာ---

| فَعُوْلٌ | رَسُوْلٌ | - အဓိပ္ပါယ်မှာ- | مَرْسُوْلٌ ဖြစ်သည်။ |
|---|---|---|---|
| فَعِيْلٌ | جَرِيْحٌ | - အဓိပ္ပါယ်မှာ- | مَجْرُوْحٌ ဖြစ်သည်။ |
| فُعُلَةٌ | ضُحُكَةٌ | - အဓိပ္ပါယ်မှာ- | مَضْحُوْكٌ ဖြစ်သည်။ |

တခါတရံ---

| فَعَلٌ | قَبَضٌ | - အဓိပ္ပါယ်မှာ- | مَقْبُوْضٌ ဖြစ်သည်။ |
|---|---|---|---|
| فِعْلٌ | ذِبْحٌ | - အဓိပ္ပါယ်မှာ- | مَذْبُوْحٌ ဖြစ်သည်။ |
| فَاعِلٌ | كَاتِمٌ | - အဓိပ္ပါယ်မှာ- | مَكْتُوْمٌ ဖြစ်သည်။ |

# ۞ اسم تفضیل ۞

اسم تفضیل -ဆိုသည်မှာသာပိုခြင်း၏အဓိပ္ပါယ်ပေးသော အရာအပေါ် ညွှန်ပြသော اسم ကိုခေါ်သည်။ ဥပမာ - زيد أفضل من عمرو

اسم تفضیل သည် مذکر အတွက် اَفۡعَلُ . اَفۡعَلاَنِ . اَفۡعَلُوۡنَ . اَفَاعِلُ

၏ مؤنث အတွက် فُعۡلٰى . فُعۡلَيَانِ . فُعۡلَيَاتٌ . فُعَلٌ

وزن များအပေါ် ၌လာလေသည်။

فائدة -၁- اسم تفضیل သည် ثلاثی مجرد အပြင်အခြားသော باب များမှ မလာပါ။အကယ်၍အခြားသော باب များမှအသုံးပြုလိုပါက (أكثر - أشدّ) ကဲ့သို့သောစာလုံးများကို مجرد ၏ مصدر အလျှင်တွင်ထားရှိ၍အသုံးပြုရမည်။

ဥပမာ - زيدأكثر اجتهادًا من عمرو - زيد أقل اكتسابًا من بكر

فائدة -၂- اسم تفضیل ၏ وزن အပေါ်တွင်လာသော اَعۡوَرُ နှင့် اَسۡوَدُ တို့သည် اسم تفضیل များမဟုတ်ပါ။ صفة مشبهة များဖြစ်လေသည်။

# ۞ اسم آله ۞

اسم آله -ဆိုသည်မှာ ကရိယာအပေါ်ညွှန်ပြသော اسم ကိုခေါ်လေသည်။ اسم آله သည် ثلاثی مجرد ၏အပြင်အခြား باب များမှ မလာပေ။၎င်း اسم آله ၏

مِفْعَلٌ . مِفْعَلاَن . مَفَاعِلُ ---များမှာ ဝ ز ن
مِفْعَلَةٌ . مِفْعَلَتَان. مَفَاعِلُ
مِفْعَالٌ. مِفْعَالاَن . مَفَاعِيلُ

တခါတရံငှင်း اسم آله သည် فِعَالٌ ၏ ဝ ز ن ပေါ်တွင်လည်းလာလေသည်။

ဥပမာ- نِطَاقٌ ခါးပတ်။

## ۞ اسم ظرف ۞

اسم ظرف- ဆိုသည်မှာ နေရာ(သို့)အချိန်ကိုညွှန်ပြသော اسم ကိုခေါ်သည်။ ثلاثى مجرد ၌ ၎င်း၏ ဝ ز ن များမှာ - مَفَاعِلُ . مَفْعَلاَن . مَفْعَلٌ ဖြစ်သည်။ တခါတရံ باب نصر ينصر မှလာသောအချို့ اسم ظرف များသည် خلاف قياس အရလာလေသည်။ ဥပမာ- مَغْرِبٌ - مَسْجِدٌ

ثلاثى مجرد အပြင်ကျန် باب များမှလာသော اسم ظرف များသည် اسم مفعول ၏ ဝ ز ن များအပေါ်တွင်လာလေသည်။ ဥပမာ-مُعَسْكَرٌ

## ۞ صفت مشبهة ۞

صفت مشبهة ဆိုသည်မှာ ذات အပေါ်ညွှန်ပြသော اسم ကိုခေါ်သည်။၎င်း၏ ဝ ز ن များသည် سماعى များဖြစ်လေသည်။ صفت مشبهة ၏ကျော်ကြားသော ဝ ز ن အချို့မှာ---

# صفت مشبہة၏ ဝွဇန်များ

| باب | معانی | مثال | اوزان |
|---|---|---|---|
| كرم | မာကြောသော | خَشِنٌ | فَعِلٌ |
| سمع | အသိဉာဏ်ရှိသော | نَدُسٌ | فَعُلٌ |
| ضرب | သောကဖြစ်သော | زِيَمٌ | فِعَلٌ |
| كرم | ကြီးကျယ်သော | كَابِرٌ | فَاعِلٌ |
| نصر | ခေါင်းဆောင် | سَيِّدٌ | فَيْعِلٌ |
| كرم | သတ္တိကြောင်သော | جَبَانٌ | فَعَالٌ |
| كرم | ဖြူဖွေးသောကုလားအုပ် | هِجَانٌ | فِعَالٌ |
| كرم | ရဲရင့်သော | شُجَاعٌ | فُعَالٌ |
| كرم | စွမ်းအားမရှိသော | وَضَّاعٌ | فَعَّالٌ |
| كرم | ကြီးကျယ်သော | كُبَّارٌ | فُعَّالٌ |
| ضرب | ဝဖြိုးသော | بِلِزٌ | فِعِلٌ |
| ضرب | သနားကြင်နာမှုမရှိသူ | حُطَمٌ | فُعَلٌ |
| كرم | မသန့်ဖြစ်သော | جُنُبٌ | فُعُلٌ |
| كرم | အနီရောင်ဖြစ်သော | اَحْمَرُ | اَفْعَلُ |

# صفت مشبهة ၏ ဝဇန်များ

| كرم | ကောင်းမွန်သော | حَسَنٌ | فَعَلٌ |
|---|---|---|---|
| سمع | ရေငတ်သောသူ | عَطْشَانٌ | فَعْلَانٌ |
| سمع | ဝတ်လစ်စလစ်ဖြစ်သော | عُرْيَانٌ | فُعْلَانٌ |
| كرم | မွန်မြတ်သော | كَرِيْمٌ | فَعِيْلٌ |
| ضرب | ခွင့်လွှတ်သောအရှင် | غَفُوْرٌ | فَعُوْلٌ |
| سمع | ရေငတ်သော | عَطْشٰى | فَعْلٰى |
| سمع | ကိုယ်ဝန်ရှိသော | حُبْلٰى | فُعْلٰى |
| سمع | သက်ရှိသတ္တဝါဖြစ်သော | حَيَوَانٌ | فَعَلَانٌ |
| سمع | အနီရောင်ဖြစ်သောသူမ | حَمْرَاءُ | فَعْلَاءُ |
| كرم | ကိုယ်ဝန် ၁၀ လရှိ သောကုလားအုပ်မ | عُشَرَاءُ | فُعَلَاءُ |
| كرم | ခက်ခဲသော | صَعْبٌ | فَعْلٌ |
| سمع | သုံည (ဝ) | صِفْرٌ | فِعْلٌ |
| كرم | မာကြောသော | صُلْبٌ | فُعْلٌ |

# ۞ خَاصيّات الأبواب ۞

لغة خاصية ၏ ॥ ॥အဓိပ္ပါယ်မှာ خُصُوْصِيَّةٌ သီးသန့်ဖြစ်ခြင်း။

اصطلاحی ॥ ॥အဓိပ္ပါယ်မှာ(အခြားသော باب မှပြောင်းယူသည့်အတွက်) မူရင်းအဓိပ္ပါယ်အပြင် အခြားအပိုအဓိပ္ပါယ်ပေးခြင်းကိုခေါ်သည်။

ဥပမာ- خَرَجَ -၎င်း၏မူရင်းအဓိပ္ပါယ်မှာ ထွက်ခြင်းဖြစ်သောလည်း باب إفعال မှ ပြောင်း၍ أخرج ဟုယူလာသည့်အတွက်ထွက်စေခြင်း(ထုတ်ခြင်း)၏အဓိပ္ပါယ်ပေးလေသည်။ဤအတွက်ကြောင့် ၎င်းباب ပြောင်းလဲခြင်းကို خاصية ဟုခေါ်ပါသည်။

فائدة ॥ ॥باب။ များ၏ خاصية ကိုသိရှိခြင်းဖြင့် باب များကို အတိအကျ သိရှိခြင်းနှင့် အဓိပ္ပါယ်များကို နားလည်းခြင်း၌လွယ်ကူမှုဖြစ်စေသည်။

ثلاثی مجرد ၏ باب -၆- ခုမှပထမ باب -၃- ခုဖြစ်သော

ضرب ـ يضرب / سمع ـ يسمع / نصر ـ ينصر တို့သည်-

(၁)အသုံးပြုမှုများခြင်း။

(၂)၎င်း باب -၃- ခုလုံးတွင် ماضی နှင့် مضارع တို့၏ حركة عين كلمة ရှိ များသည်တူညီစွာမလာသည့်အတွက် ၎င်း باب -၃- ခုကို أم الأبواب (သို့) أصل الأبواب ဟုခေါ်လေသည်။

## ۞ باب نصر ـ ينصر ၏ خاصية များ ۞

ဤ باب ၏အကျော်ကြားဆုံးသော خاصية မှာ مبالغة ၏အဓိပ္ပါယ်ပေးခြင်းဖြစ်သည်။ဆိုလိုသည်မှာ- လူနှစ်ဦးမှ တဦးအပေါ်တဦး အနိုင်ရလိုမှု၏အဓိပ္ပါယ်ကို

ဖော်ထုတ်ရန်အတွက် مفاعلة بـاب ၏နောက်တွင် نصر بـاب ကိုယူဆောင်လာရ ပေမည်။ဥပမာ- خَاصَمَنِي زَيدٌ فَخَصَمْتُهُ ဖိုက်နှင့်ကျွန်ုပ်အငြင်းအခုံဖြစ်ရာ ဖိုက်အပေါ် ကျွန်ုပ်အနိုင်ရရှိသွားခဲ့သည်။

## ۞ خاصية ၏ باب ضرب . يضرب များ ۞

مِثَال واوى ــ مِثَال يـائـى ــ اَجْـوَف يائى ـ نَاقِص يائى ဤ باب သည် တို့မှ လာပြီး مُفَاعَلَة باب ၏နောက်မှာလာသော مبالغة (သာပိုခြင်း)၏အဓိပ္ပါယ်ကို ပေးလေသည်။

مثال واوى ၏ဥပမာ- وَاعَدَنِي زَيدٌ فَوَعَدْتُهُ ဖိုက်နှင့်ကျွန်တော် ကတိကဝတ်ပြုရာ ကျွန်ုပ်ကတိတည်မှု၌သာပိုခဲ့သည်။

مثال يائى ၏ဥပမာ- يَاسَرَنِي زَيدٌ فَيَسَرْتُهُ ဖိုက်နှင့်ကျွန်တော်လောင်းကစားလုပ်ရာ ကျွန်တော်အနိုင်ရခဲ့သည်။

اجوف يائى ၏ဥပမာ- بَايَعَنِي زَيدٌ فَبِعْتُهُ ဖိုက်နှင့်ကျွန်တော် အရောင်းအဝယ်ပြုလုပ်ရာ ကျွန်ုပ်သာခဲ့သည်။

ناقص يائى ၏ဥပမာ- رَامَانِي زيد فَرَمَيْتُهُ ဖိုက်နှင့်ကျွန်တော် မျှားပစ်ပြိုင်ရာ ကျွန်ုပ် အနိုင်ရခဲ့သည်။

فائدة (၁) مبالغة - လွှမ်းမိုးအနိုင်ရခြင်း၏အဓိပ္ပါယ်ရရန်အတွက်လာရှိသော فعل သည် مِثَال واوى ــ مِثَال يائى ـ اَجْوَف يائى ـ نَاقِص يائى ဖြစ်ပါကငှင်း فعل သည်မည်သည့် باب မှလာသည်ဖြစ်စေ باب ضرب မှ

သာယူလာရပေမည်။ဥပမာ- وَهَبَ - يَهَبُ - يُوَاهِبُنِى عَمْرٌو فَاهِبُهٗ -အမှန်မှာ ဟု လာရှိသည့်အတွက် فَاهَبُهٗ ဟုသုံးရအမည့်အစား مبالغة ၏အဓိပ္ပါယ်ရရှိရန်အ တွက် فَاهِبُهٗ ဟုပြောင်းလဲအသုံးပြုရသည်။

فائدة (၂) အထက်ဖော်ပြပါ فعل များအပြင်ကျန် فعل များကို مبالغة ၏အဓိပ္ပါယ်ရ ရှိရန် باب نصر မှယူလာရပေမည်။

ဥပမာ- يُضَارِبُنِى فَاضُرُبُهٗ -ကျွန်ုပ်နှင့်ဇိုက်အပြန်အလှန်ရိုက်ရာကျွန်ုပ်နိုင်ခဲ့သည်။ အမှန်မှာ فعل သည် ضَرَبَ - يَضْرِبُ ဟုလာရှိသည့်အတွက် فَاضْرِبُهٗ ဟုသုံးရ မည့်အစား مبالغة ၏အဓိပ္ပါယ်ရရန်အတွက် فَاضُرُبُهٗ ဟုပြောင်းလဲအသုံးပြုရသည်။

## خاصية ၏ باب سمع များ

ရောဂါ-ပျော်ရွှင်မှု-ပူဆွေးမှု-အရောင်-အပြစ်အနာဆာ-ခန္ဓာကိုယ်ရှိသင်္ကေန် များ စသည်တို့အပေါ်ညွှန်ပြသော (لفظ) စာလုံးများ၏ အများပိုင်းသည်အခြား باب များထက် باب سمع မှ သာလာရှိလေသည်။ဥပမာ- سَقِمَ နေ မကောင်းဖြစ်ခဲ့သည်။ حَزِنَ ပူဆွေးခဲ့သည်။فَرِحَ ပျော်ရွှင်ခဲ့သည်။

မှတ်ချက်။ ။အရောင်အဆင်း-အပြစ်အနာအဆာနှင့်ခန္ဓာကိုယ်ရှိသင်္ကေန်များကို ပြသော فعل များသည် باب سمع နှင့်အတူ باب كرم မှ လည်းလာလေသည်။ဥပမာ-حَمِقَ-အသိမဲ့ခဲ့သည်။

سَمِرَ - اَدُمَ ထိုသူ(အသားအရေ)ဂျုံရောင်ကဲ့သို့ဖြစ်ခဲ့သည်။

باب سمع မှလာသော فعل များသည်အများပိုင်း لازم فعل မှ လာလေသည်။

တခါတရံ متعدی فعل မှ လည်းလာနိုင်လေသည်။

## ۞ باب فتح ၏خاصية များ ۞

باب فتح ၏ خاصية မှာအဓိပ္ပါယ်၌မဟုတ်ပဲ (لفظ) စာလုံး၌ဖြစ်လေသည်။

ဆိုလိုသည်မှာ فعل တခု၏ عين كلمة နှင့် لام တွင် حروف حلقى

တလုံးလုံးရှိသော فــعـل များသည်အများပိုင်း بـــاب فتح မှလာလေသည်။

ဥပမာ- مَنَعَ - سَلَخَ - جَحَدَ

သို့သော်တခါတရံ اَبٰى - يَاْبٰى နှင့် رَكَـنَ - يَرْكُنُ ကဲ့သို့သော فعل များသည်

حروف حلقى တလုံးမှ မပါသော်လည်း باب فتح မှလာလေသည်။တခါတရံ

حروف حلقى ပါရှိသော်လည်း باب فتح မှ မလာရှိပေ။ سَمِعَ - يَسْمَعُ နှင့် قَعَدَ - يَقْعُدُ ကဲ့သို့သော فعل များသည်

မှတ်ချက်။ ။တခါတရံ رَكِـنَ - يَرْكُنُ ၌ ماضى သည် بـاب سمع မှလာ၍ ၎င်း၏ مضارع သည် باب نصر မှလာလေသည်။၎င်းကို صرف ၏ဥပဒေ၌ تَدَاخُل ဟုခေါ်သည်။

## ۞ باب كرُم ၏خاصية များ ۞

باب كرم သည် အမြဲတမ်း لازم فعل အတွက်လာ၍ရုပ်ရည်သဏ္ဍာန်နှင့်အချင်းလက္ခဏာအပေါ်ညွှန်ပြလေသည်။၎င်းသည် ပုံစံ-၃-ခုလာရှိလေသည်။

(၁)မွေးရာပါ အချင်းလက္ခဏာရှိခြင်း။ဥပမာ- قَبُحَ-ရုပ်ဆိုးခြင်း။

(၂)ကြိုးစားအားထုပ်မှုကြောင့်ပေါ်ပေါက်လာသောအချင်းလက္ခဏာရှိခြင်း။

ဥပမာ- فَقُهَ - နားလည်သိရှိခဲ့သည်။

(၃)အချင်းလက္ခဏာနှင့်တူဆင်သည့်အရာဖြစ်ခြင်း။

ဥပမာ- طَهُرَ-သန့်ပြန့်ခဲ့သည်။။

## ۞ خاصية ၏ باب حسب များ ۞

باب حسب မှလာရှိသော (لفظ) စာလုံးများမှ صحيح အဖြစ်လာရှိသည့် فعل နှစ်ခုသာရှိပြီးကျန် فعل များသည် مِثَال واوى – مِثَال يائى များမှဖြစ်ကြသည်။

صحيح အဖြစ်လာရှိသော فعل နှစ်ခုမှာ-

(၁) حَسِبَ - يَحْسِبُ - حِسْبَانًا - ထင်ခြင်း။

(၂) نَعِمَ - يَنْعِمُ - نَعْمًا و نَعْمَةً - စည်းစိမ်ရှိခြင်း။

## ماضى ကိုထောက်ရှု၍ باب များကိုသိရှိစေနိုင်မည့် علامات များ

| ماضى | علامات | مصدر | باب |
|---|---|---|---|
| إِجْتَنَبَ | فاء كلمة ၏နောက်တွင် تاء ရှိခြင်း | إِجْتِنَابٌ | إِفْتِعَالٌ |
| إِسْتَنْصَرَ | فاء كلمة ၏အလျှင် تاء နှင့် سين ရှိခြင်း | إِسْتِنْصَارٌ | إِسْتِفْعَالٌ |
| إِنْفَطَرَ | فاء كلمة ၏အလျှင် نون ရှိခြင်း | إِنْفِطَارٌ | إِنْفِعَالٌ |
| إِحْمَرَّ | لام كلمة ၌ مشدّد ရှိခြင်း | إِحْمِرَارٌ | إِفْعِلَالٌ |

# خاصيات

| باب | مصدر | علامات | ماضى |
|---|---|---|---|
| إِفْعِيلَالٌ | إِدْهِيمَامٌ | عين كلمة နောက်တွင် الف ရှိ၍ لام كلمة ၌ مشدّد ရှိခြင်း | إِدْهَامَّ |
| إِفْعِيعَالٌ | إِخْشِيشَانٌ | عين كلمة နှစ်ခုလာ၍ ၎င်းနှစ်ခု ကြား၌ واو ရှိခြင်း | إِخْشَوْشَنَ |
| إِفْعِوَّالٌ | إِجْلِوَّاذٌ | عين كلمة ၏နောက်တွင် واو مشدّد ရှိခြင်း | إِجْلَوَّذَ |
| إِفَّاعُلٌ | إِثَّاقُلٌ | فاء كلمة တွင် مشدّد ဖြစ်၍ عين كلمة ၏အလျှင် الف ရှိခြင်း | إِثَّاقَلَ |
| إِفَّعُّلٌ | إِطَّهُّرٌ | فاء كلمة နှင့် عين كلمة တွင်مشدّدဖြစ်ခြင်း | إِطَّهَّرَ |
| إِفْعَالٌ | إِكْرَامٌ | فاء كلمة ၏အလျှင် همزه ရှိခြင်း | أَكْرَمَ |
| تَفْعِيلٌ | تَصْرِيفٌ | عين كلمة တွင် مشدّد ရှိခြင်း | صَرَّفَ |
| تَفَعُّلٌ | تَقَبُّلٌ | فاء كلمة ၏အလျှင် تاء ရှိ၍ عين كلمة တွင် مشدّد ရှိခြင်း | تَقَبَّلَ |
| مُفَاعَلَةٌ | مُقَاتَلَةٌ | فاء كلمة ၏နောက်တွင် الف ရှိခြင်း | قَاتَلَ |
| تَفَاعُلٌ | تَقَابُلٌ | فاء كلمة အလျှင် تاء ရှိ၍ عين كلمة ၏ အလျှင် الف ရှိခြင်း | تَقَابَلَ |

